# Myanmar C.P. Livestock Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း ဥစားကြက်မွေးမြူခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၂-၉-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၉-၉-၂၀၁၉ | ၂၀-၉-၂၀၁၉ | |
| | - ရခိုင်ပြည်နယ်အစိုးရ အဖွဲ့ရုံး | ၉-၉-၂၀၁၉ | ၂၃-၉-၂၀၁၉ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး | ၉-၉-၂၀၁၉ | ၁၈-၉-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃၁/၂၀၁၉ (၉-၉-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၉-၉-၂၀၁၉ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၉-၉-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း | ၄-၁၁-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၉ ၁၆-၁၁-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၅၀) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar C.P. Livestock Company Limited

လုပ်ငန်းအမျိုးအစား ဥစားကြက်မွေးမြူခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ ၃၁/၂၀၁၉ (၉-၉-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး ✓ မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | Reinvestment လုပ်ခြင်းနှင့် ပတ်သက်၍ မည်သည့် Project မှ လုပ်ကိုင်မည်ကို တင်ပြပေးရန်။ | ✓ | |
| ၂ | မြေငှားစာချုပ်အား အင်္ဂလိပ်ဘာသာဖြင့် တင်ပြရန်။ | ✓ | |
| ၃ | မြေကို အခြားနည်းသုံးစွဲခွင့် အထောက်အထား တင်ပြပေးရန်။ | ✓ | |
| ၄ | ၂၀၁၈-၂၀၁၉ နှစ်ချုပ်စာရင်း တင်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဥစားကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar C.P Livestock Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Uthai Tantipimolphan (Thailand) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဥစားကြက် မွေးမြူခြင်းလုပ်ငန်း(Layer Farm) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၅၀၊ ၅၁၊ ၅၃၊ ၅၄ နှင့် ၅၅၊ မြေကွက်အမှတ်-၄၁၁၊ ၄၁၄၊ ကွင်းအမှတ် (၅၇၆-က)၊ ကျားမသောက်ကွင်း၊ ကျားမသောက် ကျေးရွာအုပ်စု၊ စစ်တွေမြို့နယ်၊ စစ်တွေခရိုင်၊ ရခိုင်ပြည်နယ် |
| ၃။ | မြေပိုင်ရှင်/ မြေအသုံးပြုခွင့်ရရှိသူ | - ကျားမသောက်ကျေးရွာ ရန်ပုံငွေ ဖွံ့ဖြိုးတိုးတက်ရေးအသင်း |
| | မြေအမျိုးအစား | - ဥယျာဉ်မြေ (ရက္ခဗေဒဥယျာဉ်-နန္ဒဝန်) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၁၀၀.၉၇ ဧက အနက်မှ ၁၁.၄၄ ဧက |
| ၄။ | နှစ်စဉ် မြေနှင့် အဆောက်အဦ ငှားရမ်းခ | - တစ်စတုရန်းမီတာလျှင် ကျပ် ၃၁၀.၆၅ နှုန်းဖြင့် ၄၆,၂၉၆.၀၈ စတုရန်းမီတာ (၁၁.၄၄ ဧက)အတွက် ကျပ် ၁၄,၃၈၁,၇၁၄ |
| | မြေနှင့်အဆောက်အဦ ငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး (၁၀)နှစ် နှင့် သက်တမ်းတိုး ၅ နှစ် (၂)ကြိမ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - (၂၀)နှစ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၃၄၀၅.၀၉၅ သန်း (ချေးငွေ ကျပ် ၂၇၂၄.၀၇၆ သန်း အပါအဝင်) |

| ထည့်ဝင်သည့် အမျိုးအစား | ပြန်လည် ရင်းနှီးငွေ (ကျပ်/သန်း) | ချေးငွေ (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) | စုစုပေါင်း ညီမျှသော (US$/သန်း) |
|---|---|---|---|---|
| - ငွေသား | ၁၄၀.၆၇၇ | ၁၂.၉၇၆ | ၁၅၃.၆၅၃ | ၀.၀၉၉ |
| - မြေသားပြုပြင်မှု | | ၄၅.၀၀၀ | ၄၅.၀၀၀ | ၀.၀၂၉ |
| - အဆောက်အအုံနှင့် အဆောက်အအုံ အစိတ်အပိုင်းများ | | ၁,၅၃၅.၆၂၀ | ၁,၅၃၅.၆၂၀ | ၀.၉၉၀ |
| - စက်ပစ္စည်းများ၊ စက်ကိရိယာများ | ၂၇၀.၈၀၀ | | ၂၇၀.၈၀၀ | ၀.၁၇၅ |
| - လုပ်ငန်းသုံးပစ္စည်းများ | | ၁,၁၃၀.၄၈၀ | ၁,၁၃၀.၄၈၀ | ၀.၇၂၉ |
| - Utilities system | ၂၆၉.၅၄၂ | | ၂၆၉.၅၄၂ | ၀.၁၇၄ |
| စုစုပေါင်း | ၆၈၁.၀၁၉ | ၂၇၂၄.၀၇၆ | ၃၄၀၅.၀၉၅ | ၂.၁၉၆ |

၇။ ဝန်ထမ်းအင်အား
- ၃၀ ဦး

ပြည်တွင်း
- ၃၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ်
- ပြည်တွင်း ၁၀၀%

ထုတ်လုပ်မှု (ပထမနှစ်မြောက်)

| ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည် | အရေအတွက် | ရောင်းချမည့်ဈေးနှုန်း |
|---|---|---|
| Layer (Egg) | ၂,၁၉၀၀,၀၀၀(eggs) | ၉၉ (kyat/ egg) |
| Layer (Birds) | ၁၂၉,၃၅၇ (kg) | ၁,၆၅၀ (kyat/ kg) |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)
- ၅၀,၀၀၀ kWh

၁၀။ အခြားတင်ပြချက်
- မြေအထောက်အထားအဖြစ် အဆိုပြုမြေသည် လ/န-၃၉ ခွင့်ပြုထားသော မြေနေရာ ဖြစ်ပြီး စုစုပေါင်း မြေဧရိယာ ၁၀၀.၉၇ ဧကအနက်မှ ၁၁.၄၄ ဧကတွင် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ကျားမသောက်ကျေးရွာအုပ်စု၊ အုပ်ချုပ်ရေးမှူးမှ ပြည်နယ် အစိုးရ အဖွဲ့သို့ တင်ပြရန် မြေစာရင်းပုံစံ (၁၀၅၊ ၁၀၆)နှင့်အတူ တင်ပြလာခြင်းအား ကျေးရွာဘုံမြေရှိရေး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ရခိုင်ပြည်နယ်အစိုးရအဖွဲ့ မှ Myanmar C.P. Livestock Co., Ltd. သို့ အကြောင်းကြား ထားသည့်စာကိုတင်ပြထားပါသည်။

| | | |
|---|---|---|
| | | - အဆိုပြုမြေနေရာနှင့်စပ်လျဉ်း၍ ကျေးရွာပိုင် ဘုံမြေအနေဖြင့် ထားရှိရန်၊ လုပ်ထုံးလုပ်နည်း နှင့်အညီ အခြားနည်း အသုံးပြုခွင့် လျှောက်ထားရန်နှင့် သက်ဆိုင်ရာ မြို့နယ်များအနေဖြင့် ဥပဒေလုပ်ထုံးလုပ်နည်း နှင့်အညီ အမှုတွဲ ဖွင့်လှစ်ဆောင်ရွက်စေရေး ကြီးကြပ် ဆောင်ရွက်သွား ရန် ရခိုင်ပြည်နယ် အစိုးရအဖွဲ့မှ ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနသို့ ကြောင်းကြားထားသည့် စာကိုမြေစာရင်းပုံစံ (၁၀၅) နှင့်အတူ တင်ပြထားပါသည်။<br>- စစ်တွေမြို့နယ်နှင့် ကျောက်တော်မြို့နယ်တို့တွင် ကျေးလက်ဒေသဖွံ့ဖြိုးရေးအတွက် ရခိုင်ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် ကုမ္ပဏီနှင့် ပြည်သူလူထုပူးပေါင်းဆောင်ရွက်ရေး မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြု မြေနေရာများအား မြေရာဇဝင်၊ မြေပုံများနှင့်အတူ တင်ပြလာခြင်းအပေါ် ကျေးရွာဘုံမြေရရှိရေး လုပ်ထုံးလုပ်နည်းနှင့် အညီ အခြား အသုံးပြုခွင့် လျှောက်ထားရန်နှင့် သက်ဆိုင်ရာ မြို့နယ်များ အနေဖြင့် ဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီ အမှုတွဲ ဖွင့်လှစ်ဆောင်ရွက်နိုင်စေရေး ကြီးကြပ်ဆောင်ရွက်သွားရန် ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှ (စစ်တွေ၊ မြောက်ဦး) မြို့၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ အကြောင်းကြားစာ တင်ပြထားပါသည်။<br>- မြေအသုံးပြုခွင့်ရရှိသူ ကျားမသောက်ကျေးရွာ ရန်ပုံငွေ ဖွံ့ဖြိုးတိုးတက်ရေးအသင်းနှင့် Myanmar C.P. Livestock Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ စက်ရုံ Layout Plan တို့ကိုတင်ပြထားပါသည်။<br>- Myanmar C.P Livestock Co., Ltd. သည် ပြည်တွင်းရှိ ဘဏ်မှ ချေးငွေ ကျပ် ၂,၇၂၄,၀၇၆,၅၅၂ ချေးယူ မည် ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>- Myanmar C.P Livestock Co., Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင် မိတ္တူ၊ ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- |

| | | |
|---|---|---|
| | | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar C.P. Livestock Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ် တွင် အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။<br>- Myanmar C.P. Livestock Co., Ltd. သည် ၂၀၁၈-၂၀၁၉ စည်းကြပ်နှစ်အထိ အခွန်စည်းကြပ်မှုခံယူ၍ ကျသင့်သော အခွန်များအပြေအကြေပေးသွင်းပြီးဖြစ်ပါကြောင်း ထောက်ခံစာနှင့် ၂၀၁၈-၂၀၁၉ နှစ်ချုပ် စာရင်းတင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှုထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက် အသုံးပြုမည့် ရင်းနှီးမြှုပ်နှံငွေကို Myanmar C.P. Livestock Co., Ltd. ၏ ၂၀၁၈-၂၀၁၉ ဘဏ္ဍာနှစ်ရှိ အမြတ်ငွေ ကျပ် ၂၅,၂၄၃,၂၀၃,၉၁၂.၅၇ အနက်မှ ယခု တင်ပြလာသော ဥစားကြက်မွေးမြူခြင်းလုပ်ငန်း အတွက် ကျပ် ၆၈၁,၀၁၉,၁၃၈ ကို ပြန်လည် ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်း ကုမ္ပဏီမှ ရှင်းလင်းချက် တင်ပြထားပါသည်။<br>- ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ ကျားမသောက်ကျေးရွာ အုပ်စုတွင် ကျေးရွာရန်ပုံငွေ ဖွံ့ဖြိုးတိုးတက်ရေးအသင်း/အဖွဲ့ မှတ်ပုံတင်လျှောက်ထားခြင်းအား အသင်းအဖွဲ့များ မှတ်ပုံတင်ခြင်းဆိုင်ရာ ဥပဒေနှင့်အညီ မှတ်ပုံတင်ခွင့်အား စစ်တွေမြို့၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မြို့နယ်မှတ်ပုံတင်ရေးအဖွဲ့ မှ ထုတ်ပေးထားသည့် ပြည်တွင်းအသင်းအဖွဲ့ မှတ်ပုံတင်လက်မှတ်ကို တင်ပြထားပါသည်။ အဆိုပါ လက်မှတ်၏ သက်တမ်းမှာ ၃၀-၇-၂၀၁၉ မှ ၃၁-၇-၂၀၂၄ အထိ ဖြစ်ပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၁)တွင် ပါဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၅၁/၂၀၁၉( ၃၅၂ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၅ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ရခိုင်ပြည်နယ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဥစားကြက် မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Myanmar C.P. Livestock Co., Ltd. မှ ရခိုင်ပြည်နယ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-၅၀၊ ၅၁၊ ၅၃၊ ၅၄ နှင့် ၅၅၊ မြေကွက်အမှတ်- ၄၁၁၊ ၄၁၄၊ ကွင်းအမှတ် (၅၇၆-က)၊ ကျားမသောက်ကွင်း၊ ကျားမသောက် ကျေးရွာအုပ်စု၊ စစ်တွေမြို့နယ်၊ စစ်တွေခရိုင်၊ ရခိုင်ပြည်နယ်ရှိ စုစုပေါင်း မြေ ၁၀၀.၉၇ ဧက အနက်မှ မြေ ၁၁.၄၄ ဧက အား ငှားရမ်း၍ ဥစားကြက် မွေးမြူခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် အဆိုပြုမြေသည် လ/န-၃၉ ခွင့်ပြုထားသော မြေနေရာ ဖြစ်ပြီး စုစုပေါင်း မြေဧရိယာ ၁၀၀.၉၇ ဧကအနက်မှ ၁၁.၄၄ ဧကတွင် ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကျားမသောက်ကျေးရွာအုပ်စု၊ အုပ်ချုပ်ရေးမှူးမှ တင်ပြလာခြင်းအား ကျေးရွာဘုံမြေရရှိရေး ဆက်လက်ဆောင်ရွက်ရန် ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှ Myanmar C.P. Livestock Co., Ltd. သို့ အကြောင်းကြားထားသည့်စာကိုလည်းကောင်း၊ ကျေးရွာပိုင် ဘုံမြေအနေဖြင့် ထားရှိရန်၊ အခြားနည်း အသုံးပြုခွင့် လျှောက်ထားရန်နှင့် သက်ဆိုင်ရာ မြို့နယ်များအနေဖြင့် အမှုတွဲ ဖွင့်လှစ် ဆောင်ရွက်စေရေး ကြီးကြပ် ဆောင်ရွက်သွား ရန် ရခိုင်ပြည်နယ် အစိုးရအဖွဲ့မှ ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနသို့ ကြောင်းကြားထားသည့် စာကိုလည်းကောင်း၊ မြေစာရင်းပုံစံ (၁၀၅) ကို လည်းကောင်း တင်ပြထားပါသည်။

၃။ စစ်တွေမြို့နယ်နှင့် ကျောက်တော်မြို့နယ်တို့တွင် ကျေးလက် ဒေသဖွံ့ဖြိုးရေးအတွက် ရခိုင်ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ် မှုဖြင့် ကုမ္ပဏီနှင့် ပြည်သူလူထုပူးပေါင်းဆောင်ရွက်ရေး မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြု မြေနေရာများ အား မြေရာဇဝင်၊ မြေပုံများနှင့်အတူ တင်ပြလာခြင်းအပေါ် ကျေးရွာဘုံမြေရရှိရေး လုပ်ထုံးလုပ်နည်းနှင့် အညီ အခြား အသုံးပြုခွင့် လျှောက်ထားရန်နှင့် သက်ဆိုင်ရာ မြို့နယ်များ အနေဖြင့် ဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီ အမှုတွဲ ဖွင့်လှစ် ဆောင်ရွက်နိုင်စေရေး ကြီးကြပ်ဆောင်ရွက်သွားရန် ရခိုင် ပြည်နယ်အစိုးရအဖွဲ့မှ (စစ်တွေ၊ မြောက်ဦး) မြို့ ခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ အကြောင်းကြားစာ တင်ပြ ထားပါသည်။

၄။ မြေငှားသက်တမ်းမှာ ကနဦး ၁၀ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃၁၀.၆၅ နှုန်းဖြင့် ၄၆,၂၉၆.၀၈ စတုရန်းမီတာ (၁၁.၄၄ ဧက) အတွက် ကျပ် ၁၄,၃၈၁,၇၁၄ ဖြစ်ပါသည်။

၅။ လုပ်ငန်း စီမံကိန်းကာလမှာ ၂၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ ကျပ် ၃၄၀၅.၀၉၅ သန်း (ချေးငွေ ကျပ် ၂၇၂၄.၀၇၆ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြန်လည် ရင်းနှီးငွေ (ကျပ်/သန်း) | ချေးငွေ (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) | စုစုပေါင်း ညီမျှသော (ကျပ်/သန်း) |
|---|---|---|---|---|
| - ငွေသား | ၁၄၀.၆၇၇ | ၁၂.၉၇၆ | ၁၅၃.၆၅၃ | ၀.၀၉၉ |
| - မြေသားပြုပြင်မှု | | ၄၅.၀၀၀ | ၄၅.၀၀၀ | ၀.၀၂၉ |
| - အဆောက်အအုံနှင့် အဆောက်အအုံ အစိတ်အပိုင်းများ | | ၁,၅၃၅.၆၂၀ | ၁,၅၃၅.၆၂၀ | ၀.၉၉၀ |
| - စက်ပစ္စည်းများ၊ စက်ကိရိယာများ | ၂၇၀.၈၀၀ | | ၂၇၀.၈၀၀ | ၀.၁၇၅ |
| - လုပ်ငန်းသုံးပစ္စည်းများ | | ၁,၁၃၀.၄၈၀ | ၁,၁၃၀.၄၈၀ | ၀.၇၂၉ |
| - Utilities system | ၂၆၉.၅၄၂ | | ၂၆၉.၅၄၂ | ၀.၁၇၄ |
| စုစုပေါင်း | ၆၈၁.၀၁၉ | ၂၇၂၄.၀၇၆ | ၃၄၀၅.၀၉၅ | ၂.၁၉၆ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၃၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ကြက်ဥ နှင့် ကြက်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည် | အရေအတွက် | ရောင်းချမည့်ဈေးနှုန်း |
|---|---|---|
| Layer (Egg) | ၂,၁၉၀၀,၀၀၀(eggs) | ၉၉ (kyat/ egg) |
| Layer (Birds) | ၁၂၉,၃၅၇ (kg) | ၁,၆၅၀ (kyat/ kg) |

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြု လုပ်ငန်း ဆောင်ရွက် ခြင်းဖြင့် ဒေသတွင်း ကြက်ဥနှင့် ကြက်သားမွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာ မည်ဖြစ်ပြီး မွေးမြူရေး နှင့်ကုသရေးဦးစီးဌာနက ပြဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ

ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေး ကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့် အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ(က)

(ခ) ရခိုင်ပြည်နယ် အစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း နှင့် လယ်ယာမြေအခြားနည်း အသုံးပြုခွင့် ရရှိရေး ဥပဒေနှင့်အညီ ဆက်လက် ဆောင်ရွက်ရန်၊ မြေစီမံခန့်ခွဲခွင့်ရှိသည့် ပြည်နယ်အစိုးရအဖွဲ့နှင့် မြေငှားစာချုပ် ချုပ်ဆိုရေးဆောင်ရွက်ရန် သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး** ဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

၁၀။ ငွေရေးကြေးရေးအထောက်အထားအဖြစ် အမည်ဖြင့် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ်တွင် အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီသည် ပြည်တွင်းရှိ ဘဏ်တစ်ခုခုမှ ချေးငွေ ကျပ် ၂,၇၂၄,၀၇၆,၅၅၂ ချေးယူမည် ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်း၏ တည်နေရာပြ မြေပုံနှင့် Layout Plan ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၁/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၄။ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ ကျားမသောက်ကျေးရွာ အုပ်စုတွင် ကျေးရွာရန်ပုံငွေ ဖွံ့ဖြိုးတိုးတက်ရေးအသင်း/အဖွဲ့ မှတ်ပုံတင်လျှောက်ထားခြင်းအား စစ်တွေမြို့၊ မြို့နယ်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန၊ မြို့နယ်မှတ်ပုံတင်ရေးအဖွဲ့မှ ထုတ်ပေးထားသည့် ပြည်တွင်းအသင်းအဖွဲ့ မှတ်ပုံတင် လက်မှတ်ကို တင်ပြထားပါသည်။ အဆိုပါ လက်မှတ်၏ သက်တမ်းမှာ ၃၀-၇-၂၀၁၉ မှ ၃၁-၇-၂၀၂၄ အထိ ဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဇုန် (၁)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၆။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဥစားကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၃၂၇ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၆၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၉-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၅၁/၂၀၁၉(၂၇၃)

၁။ Myanmar CP Livestock Co., Ltd သည် ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၅၀၊ ၅၁၊ ၅၃၊ ၅၄၊ ၅၅၊ ၄၁၁၊ ၄၁၄၊ ကွင်းအမှတ်(၁၇၆-က)၊ ကျားမသောက်ကွင်း၊ ကျားမသောက်ကျေးရွာအုပ်စု၊ စစ်တွေမြို့နယ်၊ စစ်တွေခရိုင်၊ ရခိုင်ပြည်နယ်ရှိ မြေ (၁၁.၄၄) ဧက ကို ငှားရမ်း၍ ဥစားကြက်မွေးမြူခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ရခိုင်ပြည်နယ်ဦးစီးမှူး ခေါင်းဆောင်သော အဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်များအရ-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မြေပြင်အနေအထား ကောင်းမွန်ခြင်း၊ လေကောင်းလေသန့်ရရှိခြင်း၊ မော်တော်ယာဉ်ဖြင့် သွားလာနိုင်ခြင်း၊ လူနေအိမ်ခြေများနှင့် ကွာဝေးမှုရှိခြင်း၊ လျှပ်စစ်မီး အလွယ်တကူရရှိနိုင်ခြင်း၊

(ခ) ပြည်သူများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်ခြင်း၊ မွေးမြူရေး အသိပညာများ တိုးပွားလာနိုင်ခြင်း၊

(ဂ) ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ ကိုက်ညီစွာမွေးမြူမည်ဖြစ်ကြောင်း သိရှိရခြင်း၊

(ဃ) ဒေသတွင်း ကြက်ဥ၊ ကြက်သားများ လုံလောက်ဖူလုံ၍ ဈေးနှုန်းသင့်စွာဖြင့် ဝယ်ယူစားသုံးနိုင်ခြင်းနှင့် ကျားမသောက်ကျေးရွာ ဖွံ့ဖြိုးရေးရန်ပုံငွေများ တိုးပွားလာမည်ဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar CP Livestock Co., Ltd သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်ရှိ မြေ (၁၁.၄၄) ဧက ကို ငှားရမ်း၍ ဥစားကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ကြက်ဥ၊ ကြက်သား မွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပြီး မွေးမြူရေးနှင့်ကုသရေး ဦးစီးဌာနက ပြဋ္ဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များ နှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice- GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

လှထွန်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်

မိတ္တူ-

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှော

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရခိုင်ပြည်နယ်

စာအမှတ်၊ပြမ(ပ)/ ၄ / ၈ - ၃ (ဘဏ္ဍာ)/ အဖရ(ရခိုင်)
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ ၉ - ၉ - ၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက - ၂ / ခ - ၀၅၁ / ၂၀၁၉ (၂၇၄)

Myanmar C.P. Livestock Co;Ltd မှ ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်၊ ၅၀၊ ၅၁၊ ၅၃၊ ၅၄၊ ၅၅၊ ၄၁၁၊ ၄၁၄၊ ကွင်းအမှတ် (၁၇၆ - က)၊ ကျားမသောက်ကွင်း၊ ကျားမသောက်ကျေးရွာ အုပ်စု၊ စစ်တွေမြို့နယ်၊ မြေ ၁၁.၄၄ ဧကအား ငှားရမ်း၍ ဥစားကြက်မွေးမြူခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြခဲ့မှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၆၁ အရ ကော်မရှင်သည် အဆိုပြုချက်ကို စိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာန၊ အဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်နိုင်သည်ဟုဖော်ပြပါရှိပြီး နည်းဥပဒေ ၅၉ အရ ခွင့်ပြုမိန့်အား ရက်ပေါင်း ၆၀ အတွင်း ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၂၄ ရက် နောက်ဆုံးထား၍ ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်း အပေါ် ၂၃ - ၉ - ၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်သော ရခိုင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၉) ဆုံးဖြတ်ချက်အရ **ကန့်ကွက်ရန်မရှိကြောင်းနှင့် လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိရေး ဥပဒေနှင့်အညီ ဆက်လက်ဆောင်ရွက်ရန်၊ မြေစီမံခန့်ခွဲခွင့်ရှိသည့် ပြည်နယ်အစိုးရအဖွဲ့နှင့် မြေငှားစာချုပ်ချုပ်ဆိုရေးဆောင်ရွက်ရန်** ဆုံးဖြတ်ထားပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(ကျော်အေးသိန်း၊ ဘဏ္ဍာရေး၊ အခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီး)

မိတ္တူကို
ပြည်နယ်ဦးစီးမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ စစ်တွေမြို့
Myanmar C.P. Livestock Co;Ltd ၊ စစ်တွေမြို့
ရုံးလက်ခံ
မျှောစာတွဲ

P28

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၆၇/၁၉ )
ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

380/ ၉/၇ သို့

MIC,

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar CP Livestock Company Limited မှ ဥစားကြက် မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၉-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ - ၀၅၁/ ၂၀၁၉ (၂၆၇)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar CP Livestock Company Limited မှ ရခိုင်ပြည်နယ်၊ စစ်တွေခရိုင်၊ စစ်တွေမြို့နယ်၊ ကျားမသောက်ကွင်း၊ ကျားမသောက်ကျေးရွာ အုပ်စု၊ ဦးပိုင်အမှတ်- ၅၀၊ ၅၁၊ ၅၃၊ ၅၄၊ ၅၅၊ ၄၁၁၊ ၄၁၄၊ ကွင်းအမှတ်- ၁၇၆(က) ရှိ မြေဧရိယာ ၁၁.၄၄ ဧက (၄၆,၂၉၆.၀၃ စတုရန်းမီတာ) ကို ငှားရမ်း၍ ဥစားကြက် မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များ ကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၂၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁)နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် ကျားမသောက်ကျေးရွာ ရန်ပုံငွေ ဖွံ့ဖြိုးတိုးတက်ရေးအသင်းနှင့် Myanmar CP Livestock Co., Ltd. တို့အကြား ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအားမြေ ၁၁.၄၄ ဧက (၄၆,၂၉၆.၀၃ စတုရန်းမီတာ) ပေါ်တွင် ဥစားကြက် မွေးမြူရေးရန်အတွက် လိုအပ်သော အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ် ကြက်ပေါက်ကောင်ရေ ၇၅၀၀၀ ကောင်နှင့် ကြက်စာတန်ချိန် (၃) ထောင်အသုံးပြု၍ မွေးမြူရေးလုပ်ငန်းဆောင်ရွက်ကာ နှစ်စဉ် ကြက်ဥအလုံးရေ သန်းကျော် ထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ် ရေဂါလံ (၂၄၀၀၀) ခန့်အား အသုံးပြုကာ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar CP Livestock Company Limited မှ ဥစားကြက် မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အ ခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျ သန့်စင်ခြင်း မရှိဘဲ စွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ ဥစားကြက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန် အသုံးပြုသည့် ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထု ညစ်ညမ်းခြင်း၊

(စ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်း မရှိပါက မွေးမြူရေးကြက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar CP Livestock Company Limited မှ ဥစားကြက်မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ

မည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရခိုင်ပြည်နယ်
ရုံးလက်ခံ